# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၂၅၂/၂၀၀၁ ( ၁၂၈၄ - ၈ )။
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ ဖွန်လ ၁၄ ရက်။

## ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနပိုင် အဆောက်အဦကို ငါးလုပ်ငန်းနှင့် ပင်လယ်ထွက်ကုန်များ ၂၀၀၀ လီမိတက်မှ ငှားရမ်း၍ တန်(၂၀၀)ဆန့် အအေးခန်း သိုလှောင်ရုံနှင့် လုပ်ငန်းသုံးရန် (၁၀)တန်ကျ ရေခဲစက်ရုံ တည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနပိုင် အဆောက်အဦကို ငါးလုပ်ငန်းနှင့် ပင်လယ်ထွက်ကုန်များ ၂၀၀၀ လီမိတက် (Fisheries and Marine Products 2000 Ltd.) မှ ငှားရမ်း၍ တန် (၂၀၀)ဆန့် အအေးခန်း သိုလှောင်ရုံနှင့် လုပ်ငန်းသုံးရန် (၁၀)တန်ကျ ရေခဲစက်ရုံ တည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်း အဆိုပြုချက်ကို (၃-၅-၂၀၀၁)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၃/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ (၁၀-၅-၂၀၀၁) နေ့တွင် ကျင်းပပြုလုပ် ခဲ့သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၄/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ရာ မူအားဖြင့် သဘောတူပြီး ငါး ပုစွန်ပြုပြင်ထုတ်လုပ်ရေး၌ ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် အနံ့ဆိုးများ မဖြစ်ပေါ်စေရန် ဆောင်ရွက်ထားရှိရန်၊ ပြည်ပပို့သည့်တန်ဖိုးတွင် နိုင်ငံခြားငွေ (၁၀)ရာခိုင်နှုန်း အခွန်ပေးဆောင်စေရန်နှင့် အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြရန်ဆုံးဖြတ်ချက်အရ တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရွှေ့ဆိုင်းငွေပေးချေခြင်း စနစ် သဘောတူစာချုပ် (မူကြမ်း)၊ အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)နှင့် ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက် တို့ကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၃၁)သန်း အပါအဝင် စုစုပေါင်း ကျပ် (၅၁.၈၄)သန်း ဖြစ်ပါသည်။ စက်ပစ္စည်း ကိရိယာများကို မလေးရှားနိုင်ငံ Haisan Sdn Bhd Ltd. မှရွှေ့ဆိုင်းငွေပေးချေခြင်း စနစ်ဖြင့် ရယူမည်ဖြစ်ပြီး၊ တစ်နှစ်လျှင် အတိုးနှုန်း (၅)ရာခိုင်နှုန်းဖြင့် (၄)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန် အတွက် မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနပိုင် ရန်ကုန်တိုင်း၊ အလုံမြို့နယ်၊ ဆင်မင်းလမ်း၊ အလုံအအေးခန်းဝင်း အနောက်ဖက်တွင်ရှိသည့် နှစ်ထပ်အဆောက်အဦ (အလျား ၆၀' x အနံ ၄၀' x အမြင့် ၂၆') ကို ငှားရမ်း၍ လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနနှင့် ငါးလုပ်ငန်းနှင့် ပင်လယ်ထွက်ကုန်များ ၂၀၀၀ လီမိတက်တို့ ချုပ်ဆိုမည့် အဆောက်အဦ ငှားရမ်းခြင်း စာချုပ်ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) အဆောက်အဦ ငှားရမ်းခြင်းသက်တမ်းကာလမှာ ကနဦး (၁၀)နှစ်နှင့် နောက်ထပ် (၅)နှစ် (၂)ကြိမ် ငှားရမ်းခွင့်ရှိပါသည်၊

(ခ) အဆောက်အဦ ငှားရမ်းခအဖြစ် နှစ်စဉ် ကျပ် (၀.၉၂၅)သန်း ကို သက်ဆိုင်ရာ ငှားရမ်းကာလ၏ ပထမလ (၇)ရက်အတွင်း ငါးလုပ်ငန်း ဦးစီးဌာနသို့ ကြိုတင်ပေးချေရမည် ဖြစ်ပါသည်၊

(ဂ) ငှားရမ်းခနှုန်းထားများကို (၅)နှစ်တစ်ကြိမ် ပြန်လည်စိစစ်သုံးသပ်ခွင့်နှင့် ယင်းသို့ပြန်လည် စိစစ်ရာတွင် ပြီးခဲ့သော(၅)နှစ်ကာလ၏ နှစ်စဉ်ငှားရမ်းခနှုန်းထား၏(၁၅)ရာခိုင်နှုန်း ထက်မပို စေရန် ဖြစ်ပါသည်၊

(ဃ) ငှားရမ်းကာလ ကုန်ဆုံးသည့်အခါ ကုန်ဆုံးရပ်စဲသည့်နေ့မှ (၃)လအတွင်း အငှားချထားသည့် နှစ်ထပ် အဆောက်အဦ အပါအဝင် ယင်းနှင့် ဆက်စပ်နေသော ပစ္စည်းများအားလုံးကို ငါးလုပ်ငန်း ဦးစီးဌာနသို့ လက်ရှိငှားရမ်းသည့် ကာလက အခြေအနေအတိုင်း အဖိုးစားနား မပါရှိဘဲ ပြန်လည် လွှဲပြောင်း ပေးအပ်ရမည် ဖြစ်ပါသည်။

၅။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရာတွင် ငါး၊ ပုစွန်များကို ပြည်ပသို့ (၁၀၀) ရာခိုင်နှုန်း တင်ပို့ရောင်းချ၍ ရေခဲကို လုပ်ငန်းသုံးရန်အတွက် ထုတ်လုပ်မည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | ထုတ်လုပ်မှု/ဝန်ဆောင်မှု (မက်ထရစ်တန်) |
|---|---|---|
| | ထုတ်လုပ်မှု | |
| ၁။ | White Pomfret Fish | ၄၀ |
| ၂။ | Ribbon Fish | ၄၀ |
| ၃။ | Croaker Fish | ၄၀ |
| ၄။ | Grouper Fish | ၄၀ |
| ၅။ | Spanish Mackerel Fish | ၄၀ |
| ၆။ | White Prawn | ၄၂ |
| ၇။ | Tiger Prawn | ၄၂ |
| ၈။ | Pink Prawn | ၄၂ |
| ၉။ | ရေခဲ | ၃၂၅၀ (လုပ်ငန်းသုံး) |
| | ဝန်ဆောင်မှု | |
| ၁။ | ငါး၊ ပုစွန်အေးခဲခြင်း | ၁၅၅၀၀ |

၆။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၃)နှစ်နှင့် (၁၀)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၃.၂၆)ရာခိုင်နှုန်း ဖြစ်ပါသည်။

၇။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | ဝင်ငွေခွန် | ကျပ် | ၂.၆၅ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀.၁၅ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | အမေရိကန်ဒေါ်လာ | ၀.၁၂ သန်း |
| (ဂ) | အဆောက်အဦ ငှားရမ်းခရငွေ | ကျပ် | ၀.၆၃ သန်း |

၈။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၁၁၁)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၉။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင် ထိန်းသိမ်းမှုနှင့် ချေးငွေရယူမှုတို့အတွက် ဝန်ခံကတိများ ပြုထားပါသည်။

၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၁။ ဆုံးဖြတ်ရန်အချက်။

(က) မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနပိုင် အဆောက်အဦကို ငါးလုပ်ငန်းနှင့် ပင်လယ်ထွက်ကုန်များ ၂၀၀၀ လီမိတက်မှ ငှားရမ်း၍ တန် (၂၀၀)ဆန့် အအေးခန်း သိုလှောင်ရုံနှင့် လုပ်ငန်းသုံးရန် (၁၀)တန်ကျ ရေခဲစက်ရုံ တည်ဆောက်၍ သန့်ရှင်း လတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ-မတူ။

၁၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။
အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဦးသောင်း )
ဥက္ကဋ္ဌ
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက–၁/မ–၁၂၅၂/၂၀၀၁ (၅၁၅–၇)။
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ မေလ ၁၅ ရက်။

<u>ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်</u>

<u>အမှာစာ</u>

အကြောင်းအရာ။ <u>မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနပိုင် အဆောက်အဦကို ငါးလုပ်ငန်းနှင့် ပင်လယ်ထွက်ကုန်များ ၂၀၀၀ လီမိတက်မှ ငှားရမ်း၍ တန် (၂၀၀)ဆန့် အအေးခန်း သိုလှောင်ရုံနှင့် လုပ်ငန်းသုံးရန် (၁၀)တန်ကျ ရေခဲစက်ရုံ တည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။</u>

၁။ မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနပိုင် အဆောက်အဦကို ငါးလုပ်ငန်းနှင့် ပင်လယ်ထွက်ကုန်များ ၂၀၀၀ လီမိတက် (Fisheries and Marine Products 2000 Ltd.) မှ ငှားရမ်း၍ တန် (၂၀၀)ဆန့် အအေးခန်း သိုလှောင်ရုံနှင့် လုပ်ငန်းသုံးရန် (၁၀)တန်ကျ ရေခဲစက်ရုံ တည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်း အဆိုပြုချက်ကို (၃–၅–၂၀၀၁)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၃/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရွှေဆိုင်းငွေပေးချေခြင်း စနစ် သဘောတူစာချုပ် (မူကြမ်း)၊ အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)နှင့် ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက် တို့ကို <u>နောက်ဆက်တွဲ(၁)</u> အဖြစ် တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၃၁)သန်း အပါအဝင် စုစုပေါင်း ကျပ် (၅၁.၈၄)သန်း ဖြစ်ပါသည်။ ယင်းတွင်ငွေသား ကျပ် (၃၇.၃၈)သန်း၊ စက်ပစ္စည်းကိရိယာ တန်ဖိုး ကျပ် (၁.၈၄)သန်း {အမေရိကန်ဒေါ်လာ (၀.၃၁)သန်း}နှင့် ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း တန်ဖိုး ကျပ် (၁၂.၆၂)သန်း ထည့်ဝင် ရင်းနှီးမည် ဖြစ်ပါသည်။ စက်ပစ္စည်း ကိရိယာများကို မလေးရှားနိုင်ငံ Haisan Sdn Bhd Ltd. မှရွှေဆိုင်းငွေပေးချေခြင်း စနစ်ဖြင့် ရယူမည်ဖြစ်ပြီး တစ်နှစ်လျှင် အတိုးနှုန်း (၅)ရာခိုင်နှုန်းဖြင့် (၄)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန် အတွက် မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနပိုင် ရန်ကုန်တိုင်း၊ အလုံမြို့နယ်၊ ဆင်မင်းလမ်း၊ အလုံအအေးခန်းဝင်း အနောက်ဖက်တွင်ရှိသည့် နှစ်ထပ်အဆောက်အဦ (အလျား ၆၀' x အနံ ၄၀' x အမြင့် ၂၆') ကို ငှားရမ်း၍ လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနနှင့် ငါးလုပ်ငန်းနှင့် ပင်လယ်ထွက်ကုန်များ ၂၀၀၀ လီမိတက်တို့ ချုပ်ဆိုမည့် အဆောက်အဦ ငှားရမ်းခြင်း စာချုပ်ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) အဆောက်အဦ ငှားရမ်းခြင်းသက်တမ်းကာလမှာ ကနဦး (၁၀)နှစ်နှင့် နောက်ထပ် (၅)နှစ် (၂)ကြိမ် ငှားရမ်းခွင့်ရှိပါသည်၊

(ခ) မြေငှားရမ်းခအဖြစ် နှစ်စဉ် ကျပ် (၀.၉၂၅)သန်း ကို သက်ဆိုင်ရာ ငှားရမ်းကာလ၏ ပထမလ (၇)ရက်အတွင်း ငါးလုပ်ငန်း ဦးစီးဌာနသို့ ကြိုတင်ပေးချေရမည် ဖြစ်ပါသည်၊

(ဂ) ငှားရမ်းခနှုန်းထားများကို (၅)နှစ်တစ်ကြိမ် ပြန်လည်စိစစ်သုံးသပ်ခွင့်နှင့် ယင်းသို့ပြန်လည် စိစစ်ရာတွင် ပြီးခဲ့သော(၅)နှစ်ကာလ၏ နှစ်စဉ်ငှားရမ်းခနှုန်းထား၏(၁၅)ရာခိုင်နှုန်း ထက်မပို စေရန် ဖြစ်ပါသည်၊

(ဃ) ငှားရမ်းကာလ ကုန်ဆုံးသည့်အခါ ကုန်ဆုံးရပ်စဲသည့်နေ့မှ (၃)လအတွင်း အငှားချထားသည့် နှစ်ထပ် အဆောက်အဦ အပါအဝင် ယင်းနှင့် ဆက်စပ်နေသော ပစ္စည်းများအားလုံးကို ငါးလုပ်ငန်း ဦးစီးဌာနသို့ လက်ရှိငှားရမ်းသည့် ကာလက အခြေအနေအတိုင်း အဖိုးစားနား မပါရှိဘဲ ပြန်လည် လွှဲပြောင်း ပေးအပ်ရမည် ဖြစ်ပါသည်။

၅။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရာတွင် ငါး၊ ပုစွန်များကို ပြည်ပသို့ (၁၀၀) ရာခိုင်နှုန်း တင်ပို့ရောင်းချ၍ ရေခဲကို လုပ်ငန်းသုံးရန်အတွက် ထုတ်လုပ်မည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှု၊ ဝန်ဆောင်မှုနှင့် ရောင်းဈေးနှုန်း၊ ဝန်ဆောင်ခနှုန်း များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | ထုတ်လုပ်မှု/ ဝန်ဆောင်မှု (မက်ထရစ်တန်) | ရောင်းဈေးနှုန်း/ဝန်ဆောင်ခ | |
|---|---|---|---|---|
| | | | ပြည်တွင်း (ကျပ်/မတန်) | ပြည်ပ (US$/MT) |
| | ထုတ်လုပ်မှု | | | |
| ၁။ | White Pomfret Fish | ၄၀ | - | ၁၈၀၀ |
| ၂။ | Ribbon Fish | ၄၀ | - | ၈၄၀ |
| ၃။ | Croaker Fish | ၄၀ | - | ၁၃၂၀ |
| ၄။ | Grouper Fish | ၄၀ | - | ၁၈၀၀ |
| ၅။ | Spanish Mackerel Fish | ၄၀ | - | ၈၄၀ |
| ၆။ | White Prawn | ၄၂ | - | ၇၂၀၀ |
| ၇။ | Tiger Prawn | ၄၂ | - | ၈၄၀၀ |
| ၈။ | Pink Prawn | ၄၂ | - | ၆၀၀၀ |
| ၉။ | ရေခဲ | ၃၂၅၀ | (လုပ်ငန်းသုံး) | - |
| | ဝန်ဆောင်မှု | | | |
| ၁ | ငါး၊ ပုစွန်အေးခဲခြင်း | ၁၅၅၀၀ | ၂၄၀၀၀ | - |

၆။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၃၇၂.၀၀ | ၇.၀၃ | ၃၇၉.၀၃ |
| (ခ) | အသုံးစရိတ် | ၃၆၅.၁၂ | ၂.၀၂ | ၃၆၇.၁၄ |
| (ဂ) | အသားတင်အမြတ် | ၆.၈၈ | ၅.၀၁ | ၁၁.၈၉ |

၇။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၃)နှစ်နှင့် (၁၀)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၃.၂၆)ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | ဝင်ငွေခွန် | ကျပ် | ၂.၉၅ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀.၁၅ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | အမေရိကန်ဒေါ်လာ | ၀.၁၂ သန်း |
| (ဂ) | အဆောက်အဦ ငှားရမ်းခရငွေ | ကျပ် | ၀.၉၃ သန်း |

၉။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၁၁၁)ဦး ခန့်ထား၍ ဆောင်ရွက်မည် ဖြစ်ပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ချေးငွေရယူခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ပြန်လည် ပေးဆပ်ရာတွင်လည်း အဆိုပြုလုပ်ငန်းမှ တရားဝင် ရရှိထားသော နိုင်ငံခြားငွေဖြင့် ပေးဆပ်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန် အတွက် လိုအပ်သော အစီအမံများ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ Waste Water Treatment Plant တပ်ဆင် အသုံးပြုမည် ဖြစ်ပါကြောင်း၊ ပြည်ပသို့ တင်ပို့ရန် ဈေးကွက်ရှိပြီးဖြစ်ကြောင်း၊ လုပ်ငန်းအသစ်၊ စက်ပစ္စည်းအသစ် ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၂။ ဆုံးဖြတ်ရန်အချက်။

(က) မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနပိုင် အဆောက်အဦကို ငါးလုပ်ငန်းနှင့် ပင်လယ်ထွက်ကုန်များ ၂၀၀၀ လီမိတက်မှ ငှားရမ်း၍ တန် (၂၀၀)ဆန့် အအေးခန်း သိုလှောင်ရုံနှင့် လုပ်ငန်းသုံးရန် (၁၀)တန်ကျ ရေခဲစက်ရုံ တည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် ရန် အဆိုပြုတင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။

ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ကုန်သွယ်မှု မူဝါဒ ကောင်စီ။

ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၁။ | ငါးလုပ်ငန်းနှင့် ပင်လယ်ထွက်ကုန်များ ၂၀၀၀ လီမိတက်<br>(Fisheries and Marine Products 2000 Ltd.) | ၁။ ဦးဇော်လေး<br>(M.D)<br>၂။ ဦးတင်မောင်စိုး<br>( Dir ) | အခန်းအမှတ် (၆/ဃ)၊ တိုက်အမှတ်–၂၁၆/၂၂၂၊ (၄၉) လမ်း၊<br>ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။<br>အမှတ် (၃၈)၊ ဝါးတန်းလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ |

| | | |
|---|---|---|
| ၄။ | ထုတ်လုပ်မှု( ပုံမှန်နှစ်) | မက်ထရစ်တန် |
| | - White Pomfret Fish | ၄၀ |
| | - Ribbon Fish | ၄၀ |
| | - Croaker Fish | ၄၀ |
| | - Grouper Fish | ၄၀ |
| | - Spanish Mackerel Fish | ၄၀ |
| | - White Prawn | ၄၂ |
| | - Tiger Prawn | ၄၂ |
| | - Pink Prawn | ၄၂ |
| | - ငရဲ | ၃၂၃၀ |
| | ဝန်ဆောင်မှု | |
| | - ဓါး၊ ပုဇွန် အေး ခဲခြင်း | ၁၃၃၀၀ |
| ၅။ | ရောင်းချမည့်နည်း စနစ် | ပြည်တွင်း / ပြည်ပ |
| | ဓါး / ပုဇွန် | - / ၁၀၀ % |
| | ဓါး / ပုဇွန် အေးခဲခြင်း | ၁၀၀ % / - |
| | ငရဲ | ၁၀၀ %( လုပ်ငန်းသုံး) |
| ၆။ | ရောင်းဈေးနှုန်း( ပုံမှန်နှစ်) | ပြည်ပ ရောင်း ( US$ / MT ) |
| | - White Pomfret Fish | ၁၀၀၀ |
| | - Ribbon Fish | ၁၄၀ |
| | - Croaker Fish | ၁၃၂၀ |
| | - Grouper Fish | ၁၀၀၀ |
| | - Spanish Mackerel Fish | ၁၄၀ |
| | - White Prawn | ၄၂၀၀ |
| | - Tiger Prawn | ၁၄၀၀ |
| | - Pink Prawn | ၆၀၀၀ |
| | ဝန်ဆောင်မှု | ( ကျပ် / တန်) |
| | ဓါး၊ ပုဇွန် အေး ခဲခြင်း | ၂၄၀၀၀ |

| | | |
|---|---|---|
| ၁၀။ | ဝင်ငွေ ( ပုံမှန်နှစ် ) | |
| | နိုင်ငံခြား ငွေဖြင့် | US$ ၁.၁၇ သန်း |
| | ကျပ် ငွေဖြင့် | ကျပ် ၃၇၂.၀၀ သန်း |
| ၁၁။ | အသားတင်အမြတ် ( ပုံမှန်နှစ် ) | |
| | နိုင်ငံခြား ငွေဖြင့် | US$ ၀.၀၄ သန်း |
| | ကျပ် ငွေဖြင့် | ကျပ် ၆.၀၅ သန်း |
| ၁၂။ | အရင်း ကျေကာလ | ( ၃ ) နှစ်နှင့် ( ၁၀ ) လ |
| ၁၃။ | အရင်း အနှီးအ ပေါ်အကျိုးအမြတ် ပြန် ပေါ်နှုန်း ( IRR ) | ( ၂၃.၁၀ ) ရာခိုင်နှုန်း |
| ၁၄။ | နိုင်ငံ တော်မှ ပုံမှန်နှစ်တွင်ရရှိမည့် အကျိုး အမြတ် | |
| | - ဝင် ငွေ ခွန် | US$ ၀.၁၅ သန်း |
| | | ကျပ် ၂.၆၃ သန်း |
| | - ကုန်သွယ်လုပ်ငန်း ခွန် ( ပြည်ပ ရောင်းရ ငွေ ပေါ် ၁၀ % ) | US$ ၀.၁၂ သန်း |
| | အ ဆောက်အဦ ငှား ရမ်း ခ | ကျပ် ၀.၆၃ သန်း |
| ၁[illegible] | ဝန်ထမ်း အင်အား ( ပြည်တွင်း ) | ( ၁၁၁ ) ဦး |
| ၁၆။ | စက်တပ်ဆင်ကာလ | ( ၆ ) လ |
| ၁၇။ | အခြား | - စက်ပစ္စည်းကိရိယာများကို မလေးရှားနိုင်ငံ Haisan Sdn Bhd Ltd မှ ရွေ့ဆိုင်းငွေ ပေး ချေခြင်းစနစ်ဖြင့် တစ်နှစ်လျှင်အတိုးနှုန်း ( ၅ ) ရာခိုင်နှုန်းဖြင့် ( ၄ ) နှစ်အတွင်း ပြန်လည်ပေး ဆပ်ရမည်ဖြစ်ပါသည်။<br>- စက်ပစ္စည်းစာရင်းကိုပူးတွဲတင်ပြထားပါသည်။<br>- အဆောက်အဦငှားရမ်းခ အဖြစ်နှစ်စဉ်ကျပ် ( ၀.၆၂၅ ) သန်းကိုသက်ဆိုင်ရာငှားရမ်းကာလ ၏ ပထမလ ( ၇ ) ရက်အတွင်း ဒါး ပုဝ်ငန်း ဦး စီး |

ဌာနသို့ကြိုတင် ပေးချေရမည်ဖြစ်ပါသည်။

[ အဆောက်အဦငှားရမ်းခြင်းစာချုပ်(မူကြမ်း)]
အပိုဒ် - ၈ - ၁]

- ငှားရမ်းခနှုန်းထားများကို (၁) နှစ်တစ်ကြိမ်ပြန်လည်စိစစ်သုံးသပ်ခွင့်နှင့် ယင်းသို့ပြန်လည်စိစစ်ရာတွင်ပြီးခဲ့သော (၁) နှစ်ကာလ၏နှစ်စဉ်ငှားရမ်းခနှုန်းထား၏ (၁၅) ရာခိုင်နှုန်းထက်မပိုစေရန်ဖြစ်ပါသည်။

[ အဆောက်အဦ ငှားရမ်းခြင်းစာချုပ်(မူကြမ်း)
အပိုဒ် ၈ - ၂ ]

- ငှားရမ်းကာလကုန်ဆုံးသည့်အခါ ကုန်ဆုံးရပ်စဲသည့်နေ့မှ (၃) လအတွင်းအငှားချထားသည့်နှစ်ကပ် အဆောက်အဦအပါအဝင်ယင်း နှင့်ဆက်စပ်နေသောပစ္စည်းများ အားလုံးကိုဝါးလုပ်ငန်း ဦးစီးဌာနသို့ပုံမှန်အသုံးပြုနိုင်သည့်အခြေအနေအတိုင်း အဖိုးစားနားမပါရှိဘဲပြန်လည်လွှဲပြောင်းပေးအပ်ရမည်။

[အဆောက်အဦငှားရမ်းခြင်းစာချုပ်(မူကြမ်း)
အပိုဒ် ၁၂ - ၁]

- ယင်းလုပ်ငန်းသည်မြန်မာနိုင်ငံသားများသာ သျှင်ပိုင်ကိုင်ပြီး နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း၊ မြန်မာနှင့်ပတ်သက်၍ နိုင်ငံတော်မှသတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းသတ်မှတ်ချက်များကိုလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၊ ချေးငွေရယူခြင်းသည်နိုင်ငံတော်နှင့်သက်ဆိုင်ခြင်းမရှိဘဲ ပြန်လည်ပေးဆပ်ရာတွင်လည်း အကျိုးလုပ်ငန်းမှတရားဝင်ရရှိသော နိုင်ငံခြားငွေဖြင့်ပေးဆပ်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်သစ်တောများနှင့်မြေ ဘေးအန္တရာယ်များ မဖြစ်ပွာ